# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကအ-၁/ မ-၄၀၂၊ ၄၀၃/၉၉ (၉၁၄၇)။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၆ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ အရှေ့တိုင်း ပုလဲ ကုမ္ပဏီ လီမိတက် မှ မြန်မာ့ ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်း နှင့် ထုတ်လုပ်မှုအပေါ် အချိုးကျ ခွဲဝေခံစားသည့် စနစ်ဖြင့် တနင်္သာရီတိုင်း အတွင်း ပုလဲ မွေးမြူ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ အရှေ့တိုင်း ပုလဲ ကုမ္ပဏီ လီမိတက် မှ တနင်္သာရီတိုင်း၊ ကော့သောင်းမြို့နယ်၊ ရွှေကျွန်း နှင့် ဘုတ်ပြင်း မြို့နယ်၊ ခင်ယော်ကျွန်းတို့တွင် သတ္တုတွင်း ဝန်ကြီးဌာန၊ မြန်မာ့ ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်း နှင့် ထုတ်လုပ်မှုအပေါ် အချိုးကျ ခွဲဝေခံစားသည့် စနစ်ဖြင့် ပုလဲ မွေးမြူထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း ကိစ္စကို (၂၀-၈-၉၉) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၄/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခဲ့ပါသည်။

၂။ အဆိုပါကိစ္စကို (၂၂-၉-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၂/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ပုလဲမွေးမြူ ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်မည့် နေရာသည် ယင်းဒေသတွင် အကောင်အထည်ဖော်ရန်ရှိသည့် အခြားလုပ်ငန်းများနှင့် လွတ်ကင်းမှု ရှိ-မရှိ စိစစ်ရန်၊

(ခ) နိုင်ငံတော်၏ လိုအပ်ချက်အရ နောင်တစ်ချိန်တွင် ယင်းဒေသ၌ လုပ်ငန်းစီမံကိန်းများ အကောင်အထည်ဖော်ရန် ရှိပါက ပုလဲမွေးမြူရေးအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုထားသည့် လုပ်ကွက်ဧရိယာကို ပြန်လည်သိမ်းယူခွင့်ရှိရန်၊

(ဂ) သို့ဖြစ်၍ ပုလဲမွေးမြူ ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်မည့် နေရာသည် လက်ရှိ အခြေအနေတွင် အခြားလုပ်ငန်းများနှင့် လွတ်ကင်းမှု ရှိ-မရှိ ကို စိစစ်ခြင်းအပြင် နောင်တစ်ချိန်တွင် နိုင်ငံတော်က လုပ်ငန်းစီမံကိန်းကြီးများ အကောင်အထည်ဖော်ရန် ရှိပါက ခွင့်ပြုထားသည့် လုပ်ကွက်ဧရိယာကို ပြန်လည် သိမ်းယူခွင့်ရှိသည်ဆိုသည့် စာပိုဒ် (Clause) ကို စာချုပ်တွင် ထည့်သွင်းချုပ်ဆိုရန်။

ကော်မရှင်၏ ၂၄ / ၉၉ ကြိမ် မြောက်
အစည်းအဝေး ၂၆-၁၁-၉၉ ။

အကြောင်းအရာ။ ။အရှေ့တိုင်း ပုလဲကုမ္ပဏီလီမိတက်မှ မြန်မာ့ပုလဲထုတ်လုပ်ရေး နှင့်ရောင်းဝယ်ရေးလုပ်ငန်းနှင့်ထုတ်လုပ်မှု အပေါ် အချိုးကျခွဲဝေခံစားသည့်စနစ်ဖြင့်တနင်္သာရီတိုင်း အတွင်းပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက် ရန်အဆိုပြုတင်ပြခြင်း ကိစ္စ ။

၁။ အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက်မှတနင်္သာရီတိုင်း၊ ကော့သောင်းမြို့နယ် ရွှေကျွန်း နှင့်ဘုတ်ပြင်းမြို့နယ်၊ ဇင်ဗယ်ကျွန်း တို့တွင်သတ္တုတွင်းဝန်ကြီးဌာန ၊ မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေး လုပ်ငန်း နှင့်ထုတ်လုပ်မှုအပေါ်အချိုး ကျခွဲဝေခံစားသည့်စနစ်ဖြင့်ပုလဲမွေးမြူထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြု ပါရန်အဆိုပြုတင်ပြလာခြင်း ကိစ္စကို (၂၀-၁-၉၉) နေ့တွင်ကျင်းပပြုလုပ်ခဲ့ သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄/၉၉) ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့် သဘော တူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြခဲ့ပါသည်။

၂။ အဆိုပါကိစ္စကို (၂-၉-၉၉) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၂/၉၉) ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ ရာယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) ပုလဲမွေးမြူထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်မည့်နေရာ သည်ယင်း ဒေသတွင်အကောင်အထည်ဖော်ရန်ရှိသည့်အခြား လုပ်ငန်းများ နှင့်လွတ်ကင်းမှု ရှိ-မရှိစိစစ်ရန်။

(ခ) နိုင်ငံတော်၏လိုအပ်ချက်အရ နောင်တစ်ချိန်တွင်ယင်းဒေသ၌လုပ်ငန်းစီမံကိန်းများအကောင်အထည်ဖော်ရန်ရှိပါက ပုလဲမွေးမြူရေး အတွက်လုပ်ငန်း လုပ်ကိုင်ခွင့်ပြုထားသည့် လုပ်ကွက်ဧရိယာကိုပြန်လည်သိမ်းယူခွင့်ရှိရန်၊

(ဂ) သို့ဖြစ်၍ ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်မည့်နေရာ သည်လက်ရှိအခြေအနေတွင်အခြားလုပ်ငန်းများနှင့်လွတ်ကင်း မှုရှိ-မရှိကိုစိစစ်ခြင်းအပြင်နောင်တစ်ချိန်တွင် နိုင်ငံတော် ကလုပ်ငန်းစီမံကိန်းကြီးများအကောင်အထည်ဖော်ရန်ရှိပါက

၃။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ သတ္တုတွင်း ဝန်ကြီးဌာနမှ သက်ဆိုင်ရာဌာန များသို့ တည်နေရာပြ မြေပုံတို့ဖြင့် တင်ပြမေးမြန်းခဲ့ရာ၊ သစ်တောရေးရာ ဝန်ကြီးဌာန၊ စွမ်းအင် ဝန်ကြီးဌာန၊ ပို့ဆောင်ရေး ဝန်ကြီးဌာန နှင့် မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန တို့မှ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားချက်များ ရရှိကြောင်း နှင့် စာချုပ် (မူကြမ်း) အပိုဒ် ၄-၂ ကို အောက်ပါအတိုင်း ပြင်ဆင် ဖြည့်စွက်၍ တင်ပြလာပါသည်။ စာချုပ် မူကြမ်းများကို ပူးတွဲ တင်ပြအပ်ပါသည်။ (နောက်ဆက်တွဲ - ၁)

စာချုပ် (မူကြမ်း) ၄-၂။ "အကယ်၍ အထက်ပါ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရ စီမံကိန်း တစ်ခုခု အလို့ငှါ အသုံးပြုရန် လိုအပ်ခဲ့လျှင် အခြားလုပ်ပိုင်ခွင့်ရှိသော လုပ်ကွက် တစ်ခုခုကို အစိုးရက ကန်ထရိုက်တာသို့ အစားထိုးပေးအပ်မည်ဖြစ်ကြောင်း၊ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့က အသိအမှတ် ပြုပါသည်။ ထိုအခါ ကန်ထရိုက်တာ ဖြစ်သူက မိမိ လက်ဝယ် ရယူထားသော လုပ်ကွက်ကို အစိုးရက ပြန်လည် လက်ဝယ် ရယူနိုင်ရန် ပြောင်းရွှေ့ ဖယ်ရှားပေးရမည်ဖြစ်ပြီး မိမိအား အစားထိုး ပေးအပ်သော လုပ်ကွက်ကို ပြောင်းလဲ လက်ခံယူရန် ဖြစ်ပါသည်။"

၄။ ယင်းတင်ပြချက်ကို (၂၆-၁၁-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ကော်မရှင်၏ (၂၄/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။

၅။ ဆုံးဖြတ်ရန်အချက်။

(က) မြန်မာ့ ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်း နှင့် အရှေ့တိုင်း ပုလဲ ကုမ္ပဏီ လီမိတက်တို့၏ ပုလဲ မွေးမြူ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စာချုပ် (ရွှေကျွန်း)နှင့် (ဇင်ယော်ကျွန်း)၏ အပိုဒ် ၄-၂ ကို ပြင်ဆင်ဖြည့်စွက်သည့်အတိုင်း သဘောတူ-မတူ။

(ခ) စာပိုဒ် ၅(က)ကို သဘောတူပါက အရှေ့တိုင်း ပုလဲ ကုမ္ပဏီ လီမိတက်မှ မြန်မာ့ ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်း နှင့် ထုတ်လုပ်မှုအပေါ် အချိုးကျ ခွဲဝေခံစားသည့် စနစ်ဖြင့် တနင်္သာရီတိုင်းအတွင်း ရွှေကျွန်းနှင့် ဇင်ယော်ကျွန်းတွင် ပုလဲ မွေးမြူ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ။

ခွင့်ပြုထားသည့်လုပ်ကွက်ဧရိယာကိုပြန်လည်သိမ်းယူခွင့်ရှိသည် ဆိုသည့်စာပိုဒ် ( Clause ) ကိုစာချုပ်တွင်ထည့်သွင်းချုပ်ဆို ရန်၊

၃။ အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီသတ္တုတွင်းဝန်ကြီးဌာနမှ သက်ဆိုင်ရာဌာနများသို့တည်နေရာပြမြေပုံတို့ဖြင့်တင်ပြမေးမြန်းခဲ့ရာသစ်တော ရေးရာဝန်ကြီးဌာန၊ စွမ်းအင်ဝန်ကြီးဌာန၊ ပို့ဆောင်ရေးဝန်ကြီးဌာနနှင့် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနတို့မှ ကန့်ကွက်ရန်မရှိကြောင်းပြန်ကြား စာများ (ပူးတွဲ) လျက်၊ အစိုးရအဖွဲ့၏လမ်းညွှန်ချက်နှင့်အညီ စာချုပ်များတွင်အပိုဒ် ၄-၂ ကို အောက်ပါအတိုင်းဖြည့်စွက်၍တင်ပြလာပါသည်။

“ အကယ်၍အထက်ပါလုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်ကိုနိုင်ငံတော် အစိုးရစီမံကိန်းတစ်ခုခုအလို့ငှာအသုံးပြုရန်လိုအပ်ခဲ့လျှင် အခြားလုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်တစ်ခုခုကိုအကျိုးရှာ ကန်ထရိုက်တာသို့အစားထိုးပေးအပ်မည်ဖြစ်ကြောင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ကအသိအမှတ်ပြုပါသည်။ ထိုအခါ ကန်ထရိုက်တာဖြစ်သူကမိမိလက်ဝယ်ရယူထားသောလုပ်ကွက်ကို အစိုးရကပြန်လည်လက်ဝယ်ရယူနိုင်ရန်ပြောင်းရွှေ့ပေးရ မည်ဖြစ်ပြီး မိမိအားအစားထိုးပေးအပ်သောလုပ်ကွက် ကိုပြောင်းလဲလက်ဝယ်ရယူမည်ဖြစ်ပါသည်။ ”

၄။ သို့ပါ၍ သတ္တုတွင်းဝန်ကြီးဌာနမှအစိုးရအဖွဲ့၏လမ်းညွှန်ချက်နှင့်အညီ ဆောင်ရွက်ပြီးစီးမှုကိုသိရှိနိုင်ပါရန်နှင့်အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက် တင်ပြနိုင်ပါရန်လမ်းညွှန်မှုခံယူအပ်ပါသည်။



* ကျော် ၂၃၁၁၈၈။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၁၀၂၄/၉၉(၄၃၀၀)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဩဂုတ်လ ၁၇ ရက်

## အမှာစာ

အကြောင်းအရာ။ ။ အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက်မှထုတ်လုပ်မှုအပေါ်အချိုးကျခွဲဝေခံစားသည့်စနစ်ဖြင့် ``ဇင်ယော်ကျွန်း´´တွင် ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက် (Orient Pearl Co., Ltd. )သည် သယံဇာတဝန်ကြီးဌာန၊ မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေးလုပ်ငန်း (မပလ) နှင့် ထုတ်လုပ်မှုအပေါ်အချိုးကျခွဲဝေခံစားသည့်စနစ်ဖြင့် ``ဇင်ယော်ကျွန်း´´တွင် မြန်မာ့ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆို ပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၆-၇-၉၉) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂/၉၉) ကြိမ်မြောက်ကြိုတင် ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာအစည်းအဝေးမှ -

(က) လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူကြောင်း

(ခ) လုပ်ကွက်ဧရိယာကို သေချာစွာ demarcate လုပ်၍ မြေပုံနှင့် အတူပြည့်စုံစွာတင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ ပြင်ဆင်ပြီး ပြန်လည်တင်ပြလာသဖြင့် ကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်လုပ်ငန်းသဘောတူစာချုပ် (မူကြမ်း)၊ ရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့် ငွေရေးကြေးရေးဆိုင်ရာထောက်အထားများကို နောက်ဆက်တွဲ (၁) တွင်တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏တည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၁၀) သန်း အပါအဝင်စုစုပေါင်း ကျပ် (၁၀၀.၀၀) သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၃၉.၂၀) သန်း၊ စက်ပစ္စည်း ကိရိယာများ တန်ဖိုး ကျပ် (၁၉.၃၀) သန်း [အမေရိကန်ဒေါ်လာ (၀.၀၆) သန်း အပါအဝင်]၊ မြေတန်ဖိုး ကျပ် (၂.၅၀) သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၂၂.၀၀) သန်း နှင့်ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း တန်ဖိုး ကျပ် (၄.၀၀) သန်း၊ ကုန်ကြမ်း ပစ္စည်း တန်ဖိုးကျပ် (၁၂.၀၄) သန်း [အမေရိကန်ဒေါ်လာ (၀.၀၄) သန်း အပါအဝင်] ထည့်ဝင်ရင်းနှီး မည်ဖြစ်ပါသည်။ မြေတန်ဖိုး ကျပ် (၂.၅၀) သန်း သည်မြိတ်ရုံး အဆောက်အဦဆောက်လုပ်ရန်အတွက်ကုမ္ပဏီပိုင်ဝယ်ယူထားသော မြေဖြစ်ပါသည်။ မော်တော်ယာဉ် များ နှင့်ကုန်ကြမ်း ပစ္စည်း များ ဝယ်ယူရန်အတွက်နိုင်ငံခြား ငွေမှာ ကုမ္ပဏီ၏ဝင် ငွေ ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။

၃။ ယင်း လုပ်ငန်း ကို ဆောင်ရွက်ရန်အတွက်တနင်္သာရီတိုင်း ၊ ဘုတ်ပြင်းမြို့နယ်ငှိဇင်ဖော်ကျွန်း နှင့်ဆက်စပ်ဧရိယာ (၂၂.၅) စတုရန်း မိုင်အတွင်းထုတ် လုပ်မှုအပေါ် အချိုး ကျခွဲ ဝေခံစား သည့်စနစ်ဖြင့်မြန်မာ့ပုလဲ မွေး မြူခြင်း နှင့်ထုတ်လုပ်ခြင်း လုပ်ငန်း ကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ``မြန်မာ့ပုလဲထုတ်လုပ် ရေး နှင့် ရောင်း ဝယ် ရေး လုပ်ငန်း`` နှင့် `အဲရှားတိုင်း ပုလဲကုမ္ပဏီလီမိတက်`` တို့ချုပ်ဆိုမည့်ပုလဲ မွေး မြူထုတ်လုပ်မှုအပေါ် ခွဲဝေခံစား သည့်စာချုပ် (မူကြမ်း) ပါအဓိကအချက် များ မှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) ပုလဲ မွေး မြူရန် ခွင့်ပြုသည့်ကာလမှာ စာချုပ်လက်မှတ် ရေး ထိုး သည့် နေ့မှ (၁၅) နှစ်ဖြစ်ပြီး (၁၅) နှစ်တွင်ဝတ်ဆံသွင်း သည့် မုတ်ကောင်များ ပုလဲ ဖော်ယူရန် စောင့်ဆိုင်း သည့်ကာလ (၃) နှစ် မပါဝင်ပါ။

(ခ) အဆိုပြုလုပ်ငန်း အတွက် စာချုပ်လက်မှတ်ဆု ငွေကျပ် (၁.၀၀) သန်း ကိုစာချုပ်လက်မှတ် ရေး ထိုး သည့် နေ့တွင်မပလ သို့ ပေး သွင်း ရမည်ဖြစ်ပါသည်။

(ဂ) ဘဏ်အာမခံငွေအဖြစ်ကျပ် (၂.၀၀) သန်းကို စာချုပ်လက်မှတ်ရေးထိုးပြီး ရက် (၃၀) အတွင်း မပလအမည်ဖြင့် မြဝတီဘဏ်တွင်ထားရှိရမည်။ ဘဏ်တွင်ထားရှိသည့်နေ့မှ (၃) နှစ် (သို့မဟုတ်) ကုမ္ပဏီမှ ရင်းနှီးမြှုပ်နှံမှုကျပ် (၁၀၀.၀၀) သန်းထက်မနည်းသုံးစွဲပြီးပါက စောရာကာလအတွင်း မပလမှကုမ္ပဏီသို့ဘဏ်အာမခံအား ပြန်လည်ထုတ်ပေးရမည်ဖြစ်ပါသည်။

(ဃ) စာချုပ်သက်တမ်းတိုးလိုပါက (၁၃) နှစ်ပြည့်ရန် (၆) လအလို၌ မပလသို့စာဖြင့်လျှောက်ထားနိုင်သည်။ (၁၅) နှစ်ပြည့်ပြီးသည့်နေ့တွင်သက်တမ်းတိုးဆက်လက်လုပ်ကိုင်လိုခြင်း မရှိပါက (သို့မဟုတ်) သက်တမ်းတိုးလုပ်ကိုင်ခွင့်မရပါက နောက်ထပ် (၃) နှစ်အထိကုမ္ပဏီမှဝတ်ဆံသွင်းပြီး မုတ်ကောင်များအား ပြုစုစောင့်ရှောက်ခြင်း ပြန်လည်စစ်ဆေးခြင်းနှင့်ပုလဲဖော်ခြင်းလုပ်ငန်းများအား ဆက်လက်ဆောင်ရွက်၍ ရရှိသောပုလဲများကိုလည်း အချိုးကျခွဲဝေရမည်ဖြစ်ပါသည်။

(င) ကုမ္ပဏီသည်မုတ်ကောင်ရရှိရေးအတွက် မုတ်ကောင်ဖမ်းဆီးစုဆောင်းခွင့်နှင့် မိမိအစီအစဉ်ဖြင့် မုတ်ကောင်သားဖောက်ခြင်းနှင့်မွေးမြူခြင်းကိုလုပ်ပိုင်ခွင့်ဧရိယာအတွင်း၌မြန်မာ့ပုလဲလုပ်ငန်း ဥပဒေနည်းဥပဒေများနှင့်အညီဆောင်ရွက်ခွင့်၊ မပလမှသားပေါက်မွေးမြူသောသားပေါက်မုတ်ကောင်ငယ်များကိုပုလဲထုတ်လုပ်ရန်မွေးမြူလိုပါကသတ်မှတ်ဈေးနှုန်းဖြင့်ဝယ်ယူခွင့်ရှိကြောင်း၊ ဖော်ပြထားပါသည်။

(စ) ပုလဲများကိုတန်ဖိုးသင့်ရန်လိုအပ်ပါကသတ္တုတွင်းဝန်ကြီးဌာနမှဖွဲ့စည်းပေးသည့်တန်ဖိုးသင့်အဖွဲ့သို့တင်ပြဆောင်ရွက်ရမည်။

(ဆ) နှစ်ဦးနှစ်ဖက်အပြန်အလှန်ပေးရန်ရှိသောငွေများကိုပေးချေရန်ကျရောက်သည့်နေ့မှရက်ပေါင်း (၃၀) အတွင်းပေးချေရမည်ဖြစ်ပါသည်။

(ဇ) မပလမှ (၃) ဦး၊ ကုမ္ပဏီမှ (၂) ဦးပါဝင်သောစီမံခန့်ခွဲရေးကော်မတီကိုဖွဲ့စည်း၍လုပ်ငန်းများဆောင်ရွက်ရမည်ဖြစ်ပြီး ဥက္ကဋ္ဌအဖြစ်မပလမှကိုယ်စားလှယ်တစ်ဦးကဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းမှ တစ်နှစ်လျှင်ပျှမ်းမျှအားဖြင့် ပုလဲ (၃၅၄၂.၈၇) မိုမ်ိထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း ခန့်မှန်းဖော်ပြထားပါသည်။ ထုတ်လုပ်ရရှိသော ပုလဲများကို မပလမှ (၃၀) ရာခိုင်နှုန်းနှင့် ကုမ္ပဏီမှ (၇၀) ရာခိုင်နှုန်းနှဲ့ ဝေခံစားမည်ဖြစ်ပါသည်။ ကုမ္ပဏီမှ ရရှိသောပုလဲများကို ပြည်တွင်းတွင် နိုင်ငံခြားငွေဖြင့် Emporium Sale (၅၅) ရာခိုင်နှုန်း၊ ကျပ်ငွေဖြင့် Negotiated Sale (၂၅) ရာခိုင်နှုန်းနှင့် ပြည်ပသို့ Negotiated Sale (၂၀) ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ရောင်းဈေးနှုန်းအနေဖြင့် ပုလဲတစ်မိုမ်လျှင် အမေရိကန်ဒေါ်လာ (၂၆[illegible]) နှုန်းနှင့် ကျပ်ငွေဖြင့် ကျပ် (၁.၀၀) သိန်းနှုန်းဖြင့် ရောင်းချမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ တစ်နှစ်ပျှမ်းမျှ ရရှိနိုင်မည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၆၂.၀၀ | ၂.၉၀ | ၆၄.၉၀ |
| (ခ) အသုံးစရိတ် | ၅၅.၈၂ | ၁.၀၆ | ၅၆.၈၈ |
| (ဂ) အသားတင်အမြတ် | ၆.၁၈ | ၁.၈၄ | ၈.၀၂ |

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ရရှိနိုင်မည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | |
|---|---|
| (က) ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ ၁၀.၈၇ သန်း |
| (တစ်နှစ်ပျှမ်းမျှ) | ကျပ် ၄.၉၉ သန်း |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ ၁၀.၀၃ သန်း |
| (တစ်နှစ်ပျှမ်းမျှ) | ကျပ် ၁၈.၆၀ သန်း |
| (ဂ) မြန်မာ့ပုလဲလုပ်ငန်းမှရရှိသောဝေစု | အမေရိကန်ဒေါ်လာ ၁၄.၄၂ သန်း |
| (ဃ) ရတနာပြပွဲဝန်ဆောင်စရိတ် | အမေရိကန်ဒေါ်လာ ၁၀.၂၈ သန်း |
| (င) စာချုပ်လက်မှတ်ဆုငွေ | ကျပ် ၁.၀၀ သန်း |

၈။ ယင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပြည်တွင်းမှ ဝန်ထမ်း (၂၄၆) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်း ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Land Cruiser (တစ်)စီးကို အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်ချိန်တွင် Truck (တစ်)စီးကို အခွန်အကောက် ၅၀ % သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂/၉၉) ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

သို့၃က်.

၉။ ယင်းလုပ်ငန်း၏ ငွေရေးကြေးရေးဆိုင်ရာအထောက်အထားအဖြစ် ယင်းဒိုးရှင်းပါး(လ်)ကုမ္ပဏီလီမိတက်၏ (၃၀-၃-၉၉) နေ့ရှိလက်ကျန်ရှင်းတမ်းကိုတင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းသောစည်းကမ်းချက်များကိုလိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်မီးဘေးအန္တရာယ်များအတွက်ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ မြန်မာ့ပုလဲမွေးမြူထုတ်လုပ်သည့်လုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုချက်ရရှိမှသာစတင်ဆောင်ရွက်မည့်လုပ်ငန်းဖြစ်ကြောင်း၊ ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များခံစားခွင့်ပြုရန်လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရစီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ (၁၃) အရအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုတောင်းခံထားရာယင်းအပေါ်သုံးသပ်တင်ပြချက်ကို<u>ပူးတွဲ</u>တင်ပြထားပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) အမှုတိုင်းပုလဲကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မှုအပေါ်အချိုးကျခွဲဝေခံစားသည့်စနစ်ဖြင့် ``ဇင်ဘော်ကျွန်း`` တွင်ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိုခွင့်ပြုရန်သဘောတူ-မတူ။

(ခ) သဘောတူပါက အထက်အပိုဒ် (၁၁) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ-မတူ။

အတွင်းရေးမှူး (ကိုယ်စား)
(သိဂီ တင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။</u>

* အေး * ၁၇-၈-၉၉

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက် အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(က) အရလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းမှပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀ %) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက်ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထား လာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဃ) အရသွင်းကုန်အစားထိုးလုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သောကာလ အထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျိုးဝင်ခြင်း မရှိဟုသုံးသပ်ရပါသည်။



*၄၂၁/၁/၉၉။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက အမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်ကို အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည် ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်း အပိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိအမြတ်ငွေမှ နှုတ်ယူခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ အပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်တင်သွင်းသည့်လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ကို ခွင့်ပြုသင့်ပါသည်။



* ကျော်၆၇၉။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
(ဝန်ကြီးရုံး)

စာအမှတ်၊၂၆-အဖွဲ့ခွဲ(၂) ၉၉(ပုလဲ)
နေ့စွဲ ၊ ၁၉၉၉ နိုဝင်ဘာလ (၈) ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု့ကော်မရှင်
၆၅၃ / ၆၉၁၊ ကုန်သည်လမ်း ၊ ရန်ကုန်မြို့

အကြောင်းအရာ။ ။<u>အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက်နှင့်နီနိုပုလဲမွေးမြူရေးကုမ္ပဏီလီမိတက်တို့မှမြန်မာပုလဲထုပ်လုပ်ရေးနှင့်ရောင်းဝယ်ရေး နှင့် ထုပ်လုပ်မှု့အပေါ်ချိုးကျခွဲဝေခံစား သည့်စံနစ်ဖြင့် တနင်္သာရီတိုင်းအတွင်း ပုလဲမွေးမြူထုပ်လုပ်ခြင်းလုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၄-၉-၉၉)ရက်စွဲပါစာအမှတ်၊ ရက ၁/ မ-၄၀၂၊ ၄၀၃၊၄၂၁/ ၉၉(၅၁၁၁)

၁။ အထက်ပါကိစ္စနှင့်ပက်သက်၍ ၁၉၉၉ ခုစက်တင်ဘာလ (၂)ရက်နေ့တွင်ကျင်းပသောပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအအဖွဲ့အစည်းအဝေးအမှတ်စဉ်(၃၂/၉၉)မှဆုံးဖြတ်ချက်များ နှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ရည်ညွှန်းပါစာအရစီစစ်ရန်ကိစ္စအတွက်ဆိုင်ရာဌာနများသို့တည်နေရာပြမြေပုံတို့ဖြင့်တင်ပြမေးမြန်းခဲ့ရာ၊သစ်တောရေးရာဝန်ကြီးဌာန၊စွမ်းအင်ဝန်ကြီးဌာန၊ပို့ဆောင်ရေးဝန်ကြီးဌာနနှင့်မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနတို့မှကန့်ကွက်ရန်မရှိကြောင်းပြန်ကြားစာများရရှိပြီးဖြစ်သည့်၊အပြင်စာချုပ်ပါစည်းကမ်းသတ်မှတ်ချက်တစ်ရပ်အဖြစ်နောင်တစ်ချိန်တွင်ယင်းဒေသ၌လုပ်ငန်းစီမံကိန်းကြီးများအကောင်အထည်ဖော်ရန်ရှိပါကခွင့်ပြုထားသည့်လုပ်ကွက်ဧရိယာကိုပြန်လည်ရုပ်သိမ်းခွင့်ရှိစေရမည်ဆိုသည့်မှုကိုပေါ်လွင်အောင်စာပိုဒ်တစ်ပိုဒ်ပြုစုထည့်သွင်းထားပြီးဖြစ်ပါသည်။

၂။ ပြင်ဆင်ဆောင်ရွက်ထားမှု့ကိုဇယားပုံစံဖြင့်ပူးတွဲ (၁) (၂) နှင့် (၃)အဖြစ်ပူးတွဲတင်ပြထားပါသည်။

၃။ သို့ပါ၍အဆိုပြုချက် (၃) ခုအတွက်ပြင်ဆင်ထားပြီးဖြစ်သောစာချုပ်မူကြမ်း (၃) ခုကိုတောင်းခံသည့်စောင်ရေအတိုင်းပြုစုပြီး၊ တင်ပြအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ဦးမြင့်သိန်း ၊ ဒုတိယဝန်ကြီး)

မိတ္တုကို

(၁) ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

(၂) ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေးလုပ်ငန်း

ပူးတွဲ (၁)

ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်နှင့်ပတ်သက်၍ အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၃၂/၉၉) ဆုံးဖြတ်ချက်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ညွှန်ကြားချက်အပေါ် အရေးယူဆောင်ရွက်ချက်

| စဉ် | အကြောင်းအရာ | အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/၉၉) ဆုံးဖြတ်ချက် | အရေးယူဆောင်ရွက်ချက် |
|---|---|---|---|
| ၁။ | အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မှုအပေါ် အချိုးကျ ခွဲဝေ ခံစားသည့်စံနစ်ဖြင့် ဇင်ယော်ကျွန်း တွင်ပုလဲမွေးမြူ ထုတ် လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ | (က) အမှာစာပါပုလဲမွေးမြူရေး ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်မည့် နေရာတွင် ယင်းဒေသတွင် အကောင်အထည် ဖော်ရန်ရှိသည့်အခြားလုပ် ငန်းများနှင့်လွတ်ကင်းမှု ရှိမရှိ စီစစ်ရန်၊ | (က)သစ်တောရေးရာဝန်ကြီးဌာန ၊ စွမ်းအင်ဝန်ကြီးဌာန ၊ ပို့ဆောင်ရေးဝန်ကြီး ဌာနနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနတို့မှ ကန့်ကွက်ရန်မရှိကြောင်း၊ ပြန်ကြားစာများ ရရှိ ပြီးဖြစ်ပါသည်။ |
| | | (ခ) နောင်တစ်ချိန်တွင် ယင်းဒေသ၌ နိုင်ငံတော်ကလုပ်ငန်းစီမံကိန်းကြီးများအကောင်အထည် ဖော်ရန် ရှိပါက ခွင့်ပြုထားသည့် လုပ်ကွက် ဧရိယာကို ပြန်လည်သိမ်းယူခွင့်ရှိ စေရမည်ဆို သည့် စာချုပ်ပါစည်းကမ်းသတ်မှတ်ချက်ဖြင့် အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက်အား ဇင်ယော်ကျွန်းတွင် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန် | (ခ)စာချုပ်ပါစည်းကမ်းသတ်မှတ်ချက်အဖြစ် အောက်ပါစာသားအတိုင်းစာပိုဒ် (Clause) ထည့်သွင်းထားပါသည်–<br>အကယ်၍ အထက်ပါလုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရ စီမံကိန်းတစ်ခုခု အလို့ငှာ အသုံးပြုရန် လိုအပ်ခဲ့လျှင် ၊အခြားလုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်တစ်ခုခုကိုအစိုးရကကန်ထရိုက်တာသို့ အစားထိုးပေးအပ်မည် ဖြစ်ကြောင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့က အသိအမှတ်ပြုပါသည်။ ထိုအခါ ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရက ပြန်လည် လက်ဝယ်ရယူနိုင်ရန် ပြောင်းရွှေ့ဖယ်ရှားပေး ရမည်ဖြစ်ပြီး ၊ မိမိအား အစားထိုးပေးအပ်သော လုပ်ကွက်ကို ပြောင်းလဲလက်ဝယ် ရယူမည်ဖြစ်ပါသည်။ |
| | | (ဂ) အဆိုပါလုပ်ငန်းအတွက်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အ ခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့်သက်သာခွင့် များ ကို ခံစားခွင့်ပြုရန်။ | (ဂ) မှတ်သားပြီးဖြစ်ပါသည်။ |

ပူးတွဲ (၂)

ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်နှင့်ပတ်သက်၍ အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၃၂/၉၉) ဆုံးဖြတ်ချက်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ညွှန်ကြားချက်အပေါ် အရေးယူဆောင်ရွက်ချက်

| စဉ် | အကြောင်းအရာ | အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/၉၉) ဆုံးဖြတ်ချက် | အရေးယူဆောင်ရွက်ချက်ချက် |
|---|---|---|---|
| ၁။ | အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မှုအပေါ် အချိုးကျ ခွဲဝေ ခံစားသည့် စံနစ်ဖြင့် ရွှေကျွန်းတွင် ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ | (က) အမှာစာပါပုလဲမွေးမြူရေး ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်မည့် နေရာတွင် ယင်းဒေသတွင် အကောင်အထည် ဖော်ရန်ရှိသည့်အခြားလုပ် ငန်းများနှင့်လွတ်ကင်းမှု ရှိမရှိ စိစစ်ရန်၊ | (က)သစ်တောရေးရာဝန်ကြီးဌာန ၊ စွမ်းအင်ဝန်ကြီးဌာန ၊ ပို့ဆောင်ရေးဝန်ကြီး ဌာနနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနတို့မှ ကန့်ကွက်ရန်မရှိကြောင်း၊ ပြန်ကြားစာများ ရရှိ ပြီးဖြစ်ပါသည်။ |
| | | (ခ) နောင်တစ်ချိန်တွင် ယင်းဒေသ၌ နိုင်ငံတော်ကလုပ်ငန်းစီမံကိန်းကြီးများအကောင်အထည် ဖော်ရန် ရှိပါက ခွင့်ပြုထားသည့် လုပ်ကွက် ဧရိယာကို ပြန်လည်သိမ်းယူခွင့်ရှိ စေရမည်ဆို သည့် စာချုပ်ပါစည်းကမ်းသတ်မှတ်ချက်ဖြင့် အရှေ့တိုင်းပုလဲကုမ္ပဏီလီမိတက်အား ရွှေကျွန်း တွင် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန် | (ခ)စာချုပ်ပါစည်းကမ်းသတ်မှတ်ချက်အဖြစ် အောက်ပါစာသားအတိုင်းစာပိုဒ် (Clause) ထည့်သွင်းထားပါသည်–<br>အကယ်၍ အထက်ပါလုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရ စီမံကိန်းတစ်ခုခု အလို့ငှာ အသုံးပြုရန် လိုအပ်ခဲ့လျှင် ၊အခြားလုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်တစ်ခုခုကိုအစိုးရကကန်ထရိုက်တာသို့ အစားထိုးပေးအပ်မည်ဖြစ်ကြောင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့က အသိအမှတ်ပြုပါသည်။ ထိုအခါ ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရက ပြန်လည် လက်ဝယ်ရယူနိုင်ရန် ပြောင်းရွှေ့ဖယ်ရှားပေး ရမည်ဖြစ်ပြီး ၊ မိမိအား အစားထိုးပေးအပ်သော လုပ်ကွက်ကို ပြောင်းလဲလက်ဝယ် ရယူမည်ဖြစ်ပါသည်။ |
| | | (ဂ) အဆိုပါလုပ်ငန်းအတွက်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အ ခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့်သက်သာခွင့် များ ကို ခံစားခွင့်ပြုရန်။ | (ဂ) မှတ်သားပြီးဖြစ်ပါသည်။ |

ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်နှင့်ပတ်သက်၍ အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၃၂/၉၉) ဆုံးဖြတ်ချက်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ညွှန်ကြားချက်အပေါ် အရေးယူဆောင်ရွက်ချက်

| စဉ် | အကြောင်းအရာ | အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၃၂/၉၉) ဆုံးဖြတ်ချက် | အရေးယူဆောင်ရွက်ချက် |
|---|---|---|---|
| | နိုနိုပုလဲမွေးမြူရေး ကုမ္ပဏီ လီမိတက်မှ ထုတ် လုပ်မှုအပေါ် အချိုးကျခွဲဝေခံစား သည့်စံနစ်ဖြင့် မန်ကျီးပင်ဆောင် ကျွန်း တွင်ပုလဲမွေးမြူ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင် ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄. ၉. ၉၉) ရက်စွဲပါစာအမှတ် ရက– ၁/မ– ၄၀၂၊၄၀၃၊၄၂၁ /၉၉ (၅၁၁၁)<br><br>(က) ပုလဲမွေးမြူရေး ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်မည့် နေရာသည် ယင်းဒေသတွင် အ ကောင်အထည်ဖေါ် ရန် ရှိသည့်အခြားလုပ်ငန်း များနှင့်လွတ်ကင်းမှု ရှိမရှိ စီစစ်ရန်၊<br><br>(ခ) နိုင်ငံတော်၏ လိုအပ်ချက်အရနောင်တစ်ချိန် တွင်ယင်းဒေသ၌လုပ်ငန်းစီမံကိန်းများအကောင် အထည်ဖေါ် ရန် ရှိပါက ပုလဲမွေးမြူရေးအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် လုပ်ကွက် ဧရိယာကို ပြန်လည်သိမ်းယူခွင့်ရှိ ရန်၊<br><br>(ဂ) သို့ဖြစ်၍ ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်မည့် နေရာသည် လက်ရှိအခြေအနေ တွင် အခြားလုပ်ငန်းများနှင့်လွတ်ကင်းမှုရှိမရှိကို စီစစ်ခြင်းအပြင်နောင်တစ်ချိန်တွင် နိုင်ငံတော် ကလုပ်ငန်းစီမံကိန်းကြီးများ အကောင်အထည် ဖေါ် ရန်ရှိပါက ခွင့်ပြုထားသည့် လုပ်ကွက် ဧရိ ယာကိုပြန်လည်သိမ်းယူခွင့်ရှိသည်ဆိုသည့်စာပိုဒ် (Clause)ကိုစာချုပ်တွင်ထည့်သွင်း ချုပ်ဆိုရန်၊ | (က)သစ်တောရေးရာဝန်ကြီးဌာန ၊ စွမ်းအင်ဝန်ကြီးဌာန ၊ ပို့ဆောင်ရေးဝန်ကြီး ဌာနနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနတို့မှ ကန့်ကွက်ရန်မရှိကြောင်း၊ ပြန်ကြားစာများ ရရှိ ပြီးဖြစ်ပါသည်။<br><br>(ခ)စာချုပ်ပါစည်းကမ်းချက်အဖြစ်အောက်ပါ စာသားအတိုင်းစာပိုဒ် (Clause) ထည့်သွင်းထားပါသည် –<br>အကယ်၍ အထက်ပါလုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရ စီမံကိန်းတစ်ခုခု အလို့ငှာ အသုံးပြုရန် လိုအပ်ခဲ့လျှင် ၊အခြား လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်တစ်ခုခုကိုအစိုးရ ကကန်ထရိုက်တာသို့ အစားထိုးပေးအပ်မည် ဖြစ်ကြောင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့က အသိအမှတ်ပြုပါသည်။ ထိုအခါ ကန်ထရိုက် တာဖြစ်သူက မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရက ပြန်လည် လက်ဝယ် ရယူနိုင်ရန် ပြောင်းရွှေ့ဖယ်ရှားပေး ရမည် ဖြစ်ပြီး ၊ မိမိအား အစားထိုးပေးအပ်သော လုပ်ကွက်ကို ပြောင်းလဲလက်ဝယ် ရယူမည် ဖြစ်ပါသည်။ |

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
သစ်တောရေးရာ ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀(ခ)(၃)/(၃၅၅၈/၉၉)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်

အကြောင်းအရာ။ <u>တနင်္သာရီတိုင်း၊ မြိတ်ကျွန်းစု၊ ဘုတ်ပြင်းမြို့နယ်၊ ဇင်ယော်ကျွန်းနှင့် ကောသောင်းမြို့နယ်၊ ရွှေကျွန်းတို့တွင် ပုလဲမွေးမြူထုတ်လုပ်ရန်အတွက်ပြည်တွင်းနိုင်ငံသားပိုင် Orient Pearl Co. Ltd. အားလည်းကောင်း၊ ဘုတ်ပြင်းမြို့နယ် Sir E. Owen Island (မန်ကျီးပင်ဆောင်ကျွန်း) တွင်ပုလဲမွေးမြူထုတ်လုပ်ရန်အတွက်ပြည်တွင်းနိုင်ငံသားပိုင် Niino Pearl Co. Ltd အားလည်းကောင်း ရင်းနှီးမြှုပ်နှံမှုခွင့်ပြုရန်ကိစ္စ</u>

ရည်ညွှန်းချက်။ သဘ္ဘုတွင်း ဝန်ကြီးဌာန၏ ၂၂-၉-၉၉ ရက်စွဲပါစာအမှတ် ၂၆-အဖွဲ့ခွဲ(၂)(၉၉)(ပုလဲ)

အထက်ရည်ညွှန်းစာပါသဘ္ဘုတွင်း ဝန်ကြီးဌာနမှ တနင်္သာရီတိုင်း၊ မြိတ်ကျွန်းစု၊ ဘုတ်ပြင်းမြို့နယ်၊ ဇင်ယော်ကျွန်းနှင့် ကောသောင်းမြို့နယ်၊ ရွှေကျွန်းတို့တွင် ပုလဲမွေးမြူထုတ်လုပ်ရန် အတွက် Orient Pearl Co. Ltd. သို့လည်းကောင်း၊ ဘုတ်ပြင်းမြို့နယ် Sir E. Owen Island. (မန်းကျီးပင်ဆောင်ကျွန်း) တွင် ပုလဲမွေးမြူထုတ်လုပ်ရန် အတွက် Niino Pearl Co. Ltd. သို့လည်းကောင်း၊ ရင်းနှီးမြှုပ်နှံခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍၊ သစ်တောဦးစီးဌာနမှ လေ့လာစိစစ်ချက်အရ၊ သစ်တောကြိုးဝိုင်း/ ကြိုးပြင်ကာကွယ်တောအတွင်း ပါဝင်ကျရောက်ခြင်းမရှိပါသဖြင့် သစ်တော

သစ်ပင်များ အား ခုတ်လှဲခြင်း မရှိပါက ၅၊ ဝန်ကြီး ဌာနအနေဖြင့်ကန့်ကွက် ရန်
မရှိပါကြောင်း ပြန်ကြား အပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
( ဘချို ၊ ရုံး အဖွဲ့မှူး )

<u>သတ္တုတွင်း ဝန်ကြီး ဌာန</u>
မိတ္တူ- သစ်တော ဦးစီး ဌာန

ထွန်း/၁/၁၂၂၀

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ ၀၀၁ / ၂ (ကလ) / ထ-၂
ရက်စွဲ၊ ၁၉၉၉ခုနှစ်၊အောက်တိုဘာလ၄ရက်

အကြောင်းအရာ။ တနင်္သာရီတိုင်း၊ မြိတ်ကျွန်းစု၊ ဘုတ်ပြင်းမြို့နယ် ဖင်ယော်ကျွန်းနှင့် ကော့သောင်မြို့နယ် ရွှေကျွန်းတို့တွင် ပုလဲမွေးမြူထုတ်လုပ်ရန်အတွက် ပြည်တွင်းနိုင်ငံသားပိုင် Orient Pearl Co.Ltd အားလည်းကောင်း၊ ဘုတ်ပြင်းမြို့နယ် Sir. E. Owen Island (မန်ကျိုးပင်ဆောင်ကျွန်း)တွင် ပုလဲမွေးမြူထုတ်လုပ်ရန်အတွက် ပြည်တွင်းနိုင်ငံသားပိုင် Niino Pearl Co.Ltd အား လည်းကောင်း၊ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုရန်ကိစ္စ။

ရည် ညွှန်း ချက်။ သတ္တုတွင်းဝန်ကြီးဌာန၏ ၂၂-၉-၉၉ နေ့စွဲပါစာအမှတ်၊ ၂၆-အဖွဲ့ခွဲ(၂)(၉၉) (ပုလဲ)

၁။ သတ္တုတွင်းဝန်ကြီးဌာနမှ ပြည်တွင်းနိုင်ငံသားပိုင်ကုမ္ပဏီများ ဖြစ်ကြသော Orient Pearl Co.Ltd နှင့် Niino Pearl Co.Ltdတို့အား ပုလဲမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်းတွင် ရင်းနှီးမြှုပ်နှံခွင့်ပြုရန်ကိစ္စနှင့် စပ်လျဉ်း၍ အစိုးရအဖွဲ့ဆုံးဖြတ်ချက်နှင့်အညီ လုပ်ငန်းဆောင်ရွက်မည့် ဧရိယာအတွင်း စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် အကောင်အထည်ဖော်ရန်ရှိသည့် အခြားလုပ်ငန်းများ ရှိ-မရှိ နှင့် လွတ်ကင်းမှု ရှိ-မရှိ စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာ့ ပုလဲ ထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းမှ အထက်ဖော်ပြပါ ပြည်တွင်းနိုင်ငံသားပိုင် ကုမ္ပဏီများနှင့် ပူးတွဲဆောင်ရွက်မည့် ယခုလက်ရှိသတ်မှတ်ပေးထားသော ပုလဲမွေးမြူထုတ်လုပ်ရေး ဧရိယာများသည် လက်ရှိရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေး လုပ်ကွက်များ၏ အရှေ့ဘက်တွင် ကျရောက်ပြီး၊ လွတ်ကင်းသဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

၃။ မြန်မာ့ ပုလဲ ထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းမှ ယခုခွင့်ပြုထားသော ဧရိယာများကို နောင်တိုးချဲ့ ပြင်ဆင်မည် ဆိုပါက၊ ယင်းအချိန်အခါတွင် ဤဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းရန် မေတ္တာရပ်ခံအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( တင်ထွန်း၊ ဒုတိယဝန်ကြီး )

သတ္တုတွင်းဝန်ကြီးဌာန
မိတ္တူကို
- လက်ခံ

PPS65:\PERL2 4-10-99

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁/၂၀၀(ည)/၅၀၀၀/၁၃၀၉

ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

အကြောင်းအရာ။ <u>တနင်္သာရီတိုင်း၊ မြိတ်ကျွန်းစု၊ ဘုတ်ပြင်းမြို့နယ်၊ ဇင်ယော်ကျွန်းနှင့် ကော့သောင်းမြို့နယ်၊ ရွှေကျွန်းတို့တွင် ပုလဲမွေးမြူထုတ်လုပ်ရန်အတွက်၊ နိုင်ငံသားပိုင် Orient Pearl Co အားလည်းကောင်း၊ ဘုတ်ပြင်းမြို့နယ် Sir E. Woen Island (မန်ကျီးပင်ဆောင်ကျွန်း)တွင် ပုလဲမွေးမြူထုတ်လုပ်ရန်အတွက်၊ ပြည်တွင်း နိုင်ငံသားပိုင် Nino Pearl Co, Ltd. အားလည်းကောင်း၊ ရင်းနှီးမြှုပ်နှံခွင့်ပြုရန်ကိစ္စ</u>

ရည်ညွှန်းချက်။ သတ္တုတွင်းဝန်ကြီးဌာန၏ (၂၂-၉-၉၉) ရက်စွဲပါစာအမှတ် ၊ ၂၆-အဖွဲ့ခွဲ(၂)(၉၉)ပုလဲ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ သတ္တုတွင်းဝန်ကြီးဌာန၊ပြည်တွင်း နိုင်ငံသားပိုင်ကုမ္ပဏီအဖွဲ့အစည်းများမှ တနင်္သာရီတိုင်း၊ မြိတ်ကျွန်းစု၊ ဘုတ်ပြင်းမြို့နယ် ဇင်ယော်ကျွန်းနှင့် ကော့သောင်းမြို့နယ်၊ ရွှေကျွန်းတို့တွင် ပုလဲမွေးမြူထုတ်လုပ်ရန် အတွက်၊ ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန်ကိစ္စအပေါ်၊ ဖော်ပြပါမြေပုံပေါ်ရှိ ဧရိယာနှင့် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနအနေဖြင့် အကောင်အထည်ဖော်ရန်လုပ်ငန်း များရှိမရှိနှင့် သဘောထားမှတ်ချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံထားပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သတ္တုတွင်းဝန်ကြီးဌာနမှ ရည်ညွှန်းပါ စာဖြင့် ပူးတွဲဖော်ပြပါမြေပုံပေါ်ရှိ ဧရိယာအတွင်း မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီး ဌာနအနေဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရန် လုပ်ငန်းများမရှိပါကြောင်း နှင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
(ညှိနှိုင်း၊ ညွှန်ကြားရေးမှူး)

<u>ရုံးအဖွဲ့မှူး၊</u>
<u>သတ္တုတွင်းဝန်ကြီးဌာန၊</u>
မိတ္တူကို- (၁) ရုံးအဖွဲ့မှူး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
(၂) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန